ရက်စွဲ။ ၁၇-၈-၂၀၁၈

# Daewoo Bus Myanmar Co., Ltd.နှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | စက်မှုဝန်ကြီးဌာနမှထောက်ခံချက်ပေးပို့ခြင်း | | ၂-၅-၂၀၁၈ | |
| ၂။ | စက်မှုဝန်ကြီးဌာနသို့လိုအပ်ချက်တောင်းခံခြင်း | ၁၆-၅-၂၀၁၈ | ၂၉-၅-၂၀၁၈ | |
| ၃။ | အဆိုပြုချက်တင်ပြလာခြင်း | | ၁၁-၇-၂၀၁၈ | |
| ၄။ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာဝန်ကြီးဌာနများသို့ သဘောထားတောင်းခံခြင်း<br>- ပတ်ဝန်းကျင်<br>- စက်မှု<br>- ပို့/ဆက် | <br><br><br>၁၈-၇-၂၀၁၈<br>၂၀-၇-၂၀၁၈<br>၂၀-၇-၂၀၁၈ | <br><br><br>၂၆-၇-၂၀၁၈<br>၃၀-၇-၂၀၁၈<br>၆-၈-၂၀၁၈ | |
| ၅။ | အဆိုပြုချက်အပေါ်ပြင်ဆင် တင်ပြရမည့် အချက်များ အကြောင်းကြားခြင်း<br>- စက်ပစ္စည်းစာရင်း<br>- မြေငှားစာချုပ်(မိတ္တူ)<br>- မြေအထောက်အထား | ၁၁-၇-၂၀၁၈ | | |
| ၆။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၁၉/၂၀၁၈<br>(၁၆-၇-၂၀၁၈) | | |
| ၇။ | အဆိုပြုချက်အား လက်ခံကြောင်း ပြန်ကြားခြင်း | ၁၇-၇-၂၀၁၈ | | |
| ၈။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်ပေးပို့ခြင်း | ၂၃-၇-၂၀၁၈ | | |
| ၉။ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပေးပို့ခြင်း | ၁၆-၈-၂၀၁၈ | | |
| ၁၀။ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | (၁၃/၂၀၁၈)<br>၂၅-၈-၂၀၁၈ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **၄၅ ရက်** | | |

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Daewoo Bus Myanmar Co., Ltd. တည်ထောင်ကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခရီးသည်တင် မော်တော်ယာဉ်များနှင့် အပိုပစ္စည်းများ တပ်ဆင် ထုတ်လုပ် ရောင်းချခြင်းနှင့် ပြုပြင်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ | - Daewoo Bus Myanmar Co., Ltd.<br>- ဦးကျော်ကျော်အောင် |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Myanmar Trade Center Company Limited (မြန်မာ) ၇၅%<br>- Zyle Daewoo Commercial Vehicle Co.,ltd.(ကိုရီးယား) ၂၅% |
| | လုပ်ငန်းအမျိုးအစား | - ခရီးသည်တင် မော်တော်ယာဉ်များနှင့် အပိုပစ္စည်းများ တပ်ဆင် ထုတ်လုပ်ရောင်းချခြင်းနှင့် ပြုပြင်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - စက်မှုဝန်ကြီးဌာန၊ အမှတ်(၁) အကြီးစား စက်မှုလုပ်ငန်းပိုင် မြေကွက် အမှတ်-၉၊ မြေတိုင်းရပ်ကွက် အမှတ်-၅၂၅/ဂ၊ ရဲစု အနောက်တောရပ်ကွက်၊ ထောက်ကြန့်၊ မင်္ဂလာဒုံမြို့နယ် |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>အဆောက်အဦအရေအတွက်/<br>အကျယ်အဝန်း | - အမှတ်(၁) အကြီးစား စက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာန<br>- ၁၄ဧက (၅၆၆၅၆.၁၄ စတုရန်းမီတာ)<br>- အဆောက်အဦ ၂လုံး<br>- ၄၀၀ အလျား x ၂၇၀အနံ x ၂၆အမြင့်(ပင်မအလုပ်ရုံ)<br>- ၁၀၈ အလျား x ၁၀၈အနံ x ၂၀အမြင့်(စတိုကြီး) |
| | မြေနှင့်အဆောက်အဦငှားရမ်းခ | - ကျပ် ၁၀၀ သန်း(ပထမနှစ်)<br>- ၂-၂-၂၀၁၇ ရက်နေ့တွင် ကျင်းပခဲ့သော ပြည်ထောင်စု အစိုးရ အဖွဲ့အစည်းအဝေးအမှတ်စဉ် (၃/၂၀၁၇) ၏ ခွင့်ပြုချက်အရ BOT စနစ်ဖြင့် ၂၅+၅+၅ နှစ် ငှားရမ်းခွင့်ရရှိထား ပါသည်။<br>- ၃၀-၅-၂၀၁၇ မှ စတင် ငှားရမ်းစာချုပ် ချုပ်ဆို၍ ၂၉-၅-၂၀၄၂ အထိ လက်ကျန်သက်တမ်း ၂၄နှစ် ကျန်ရှိပါသည်။ |
| | လုပ်ငန်းဆောင်ရွက်မှု<br>ဘဏ်အာမခံ(PBG) | - စာချုပ်လက်မှတ်ရေးထိုးသည့်နေ့တွင် ငှားရမ်းမှုတန်ဖိုး၏ (၁)လစာ |
| | မြေ/အဆောက်အအုံ ငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - ကနဦးနှစ်၂၅(သက်တမ်းတိုး ၅နှစ် ၂ကြိမ်) |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်<br>သက်တမ်း | - ကနဦးနှစ်၅၀ (သက်တမ်းတိုး ၁၀နှစ် ၂ကြိမ်) |
| ၅။ | တည်ဆောက်မှုကာလ | - ၂ နှစ် |

| | | |
|---|---|---|
| ၆။ | စုစုပေါင်းမတည်ငွေရင်း | - အမေရိကန်ဒေါ်လာ ၄.၆၈၇ သန်း |

| | မြန်မာ (၇၅%) | နိုင်ငံခြား (၂၅%) | ချေးငွေ (ဖက်စပ်) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|---|
| ငွေသား | ၀.၂၂၇ | ၀.၀၃၇ | ၀.၇၆၀ | ၁.၀၂၅ |
| စက်ပစ္စည်းစာရင်း(ပြည်ပ) | ၀.၄၃၂ | ၀.၅၆၃ | ၁.၄၇၄ | ၂.၄၆၉ |
| စက်ပစ္စည်းစာရင်းRecondition (ပြည်ပ) | ၀.၀၂၁ | - | - | ၀.၀၂၁ |
| မော်တော်ယာဉ်စာရင်း(ပြည်ပ) | ၁.၀၅၆ | - | ၀.၀၅၃ | ၁.၁၀၉ |
| ရုံးသုံးပစ္စည်းစာရင်း(ပြည်တွင်း) | ၀.၀၆၄ | - | - | ၀.၀၆၃ |
| **စုစုပေါင်း** | **၁.၈၀၀** | **၀.၆၀၀** | **၂.၂၈၇** | **၄.၆၈၇** |

| | | |
|---|---|---|
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀ % |

၈။ ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်း

| **အမျိုးအမည်** | **ရောင်းချမှုအရေအတွက် (စီးရေ)** | **ရောင်းဈေးနှုန်း (US$/စီးရေ)** |
|---|---|---|
| City Bus (BS 106) | ၅၀ | ၉၈,၀၀၀ |
| Mini Bus (Lestar) | ၅၀ | ၄၇,၀၀၀ |

၉။ အခြားတင်ပြချက်

| | **ပြည်တွင်း** |
|---|---|
| **အရေအတွက်** | ၂၁၅ ဦး |
| **အမြင့်ဆုံးလစာ** | ကျပ် ၈၀၀,၀၀၀ |
| **အနိမ့်ဆုံးလစာ** | ကျပ် ၂၀၀,၀၀၀ |

- ၁ US$ = ၁၃၉၉ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။
- Myanmar Trade Center Company Limited နှင့် Zyle Daewoo Bus Corporation တို့ကြား ချုပ်ဆိုထားသည့် ဖက်စပ်စာချုပ်အား တင်ပြထားပါသည်။
- တင်သွင်းမည့် စက်ပစ္စည်းများ၏ ဓာတ်ပုံများ၊ ထုတ်လုပ်မှုနည်းစဉ်များ၊ ထုတ်လုပ်မည့် မော်တော်ယာဉ် နမူနာပုံများအား တင်ပြထားပါသည်။
- ထုတ်လုပ်မည့် မော်တော်ယာဉ်များအား Daewoo အမှတ်တံဆိပ်ဖြင့် အသုံးပြုမည်ဖြစ်ပြီး ပြည်တွင်း၌ ၁၀၀% ဖြန့်ဖြူးရောင်းချမည်ဖြစ်ပါသည်။

| | | |
|---|---|---|
| ၁၀။ | စိစစ်တင်ပြချက် | - ကိုရီးယား နည်းပညာအတိုင်း ဆောင်ရွက်မည်ဖြစ်ပြီး Zyle Daewoo Commercial Vehicle Co.,ltd. နှင့် Myanmar Trade Center Company Limited တို့ချုပ်ဆိုထားသည့် Technical Collaboration and License Agreement (မူကြမ်း) အားတင်ပြထားပါသည်။<br>- Daewoo Bus Myanmar Co., Ltd. သည် မြန်မာနိုင်ငံတွင် ဖွင့်လှစ်ထားသော ကိုရီးယားနိုင်ငံ၏ ဘဏ်ခွဲ Shinhan Bank မှ US$၂.၂၈၇ သန်း ချေးငွေရယူပြီး မတည်ငွေရင်းထည့်ဝင်မည်ဖြစ်ပြီး Loan Agreement (မူကြမ်း)နှင့် Loan Repayment Schedule အား တင်ပြထား ပါသည်။<br>- စက်မှုဝန်ကြီးဌာန၊ အမှတ်(၁) အကြီးစား စက်မှုလုပ်ငန်းပိုင် ထောက်ကြန့် အလုပ်ရုံခွဲ၏ မြေနှင့်အဆောက်အဦများအား BOT စနစ်ဖြင့် ငှားရမ်းထားသည့်သဘောတူစာချုပ်အား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့်အတူ တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေး မြှင့်တင်မည့်ကဏ္ဍတွင် ပါဝင်ပြီး ISIC 2910 တွင် အကျုံးဝင်ပါသည်။<br>- ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၃/၂၀၁၇) အရ အမှတ်(၁)အကြီးစား စက်မှုလုပ်ငန်းပိုင် ထောက်ကြန့်အလုပ်ရုံခွဲအား Myanmar Trade Center Company Limited သို့ Daewoo Bus မော်တော်ယာဉ်များ ထုတ်လုပ်ရန်အတွက် BOTစနစ်ဖြင့် (၂၅+၅+၅) နှစ် ငှားရမ်းခွင့်ပြုထားသည့် အထောက်အထားအား စက်မှုဝန်ကြီးဌာနမှ တစ်ဆင့်တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံနှင့် ကိုက်ညီသည့် နည်းပညာ၊ အသုံးပြုမည့်ပုံစံ၊ လမ်းအနေအထားနှင့် safety system ဖြစ်စေရန်အတွက် လိုအပ်မည့် ကုန်ကြမ်းပစ္စည်းများအား မြန်မာနိုင်ငံသို့ မပို့မီ ကနဦး တပ်ဆင်စစ်ဆေးရန် လိုအပ်သည့်အတွက် City Bus (BS 106) ၅စီးနှင့် Mini Bus (Lestar) ၅စီးအား ကိုရီးယားနိုင်ငံရှိ Daewoo Commercial Vehicle Company တွင် စမ်းသပ် တင်ဆင်ပြီး မြန်မာနိုင်ငံသို့ မော်တော်ယာဉ် နမူနာများအဖြစ် အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းခွင့်ပြုပါရန် တင်ပြ ထားပါသည်။ |

| | | |
|---|---|---|
| | | - စုစုပေါင်း US$ ၀.၀၂၁ သန်း တန်ဖိုးရှိသော Recondition Machine များအား ကိုရီးယားနိုင်ငံမှ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ထုတ်လုပ်မည့် မော်တော်ယာဉ်(၇)မျိုး၏ ကုန်ကြမ်းပစ္စည်းများအား SKD-2သတ်မှတ်ချက်ပါပစ္စည်းအုပ်စု(၁၀)မျိုးဖြင့် ကိုရီးယားနိုင်ငံမှ တင်သွင်းထုတ်လုပ်သွားမည်ဖြစ်ပြီး ပထမနှစ်မှ တတိယနှစ်အထိ SKD-2 စနစ်ဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး၊ စတုတ္ထနှစ်မှစ၍ CKDစနစ်ဖြင့် စတင်ဆောင်ရွက်သွားနိုင်မည် ဖြစ်ကြောင်းတင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက- ၃/ခ-၁၂၃/၂၀၁၈( ၁၆၅ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဩဂုတ်လ ၂၉ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Daewoo Bus Myanmar Co., Ltd. တည်ထောင်ကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခရီးသည်တင် မော်တော်ယာဉ်များနှင့် အပိုပစ္စည်းများ တပ်ဆင် ထုတ်လုပ် ရောင်းချခြင်းနှင့် ပြုပြင်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံရှိ Myanmar Trade Center Company Limited မှ ၇၅% နှင့် ကိုရီးယားနိုင်ငံရှိ Zyle Daewoo Commercial Vehicle Co.,ltd.မှ ၂၅% တို့သည် Daewoo Bus Myanmar Co., Ltd. တည်ထောင်ကာ စက်မှုဝန်ကြီးဌာန၊ အမှတ်(၁) အကြီးစား စက်မှုလုပ်ငန်းပိုင် မြေကွက်အမှတ်-၉၊ မြေတိုင်းရပ်ကွက်အမှတ်-၅၂၅/၈၊ ရဲစု အနောက်တော ရပ်ကွက်၊ ထောက်ကြန့်၊ မင်္ဂလာဒုံမြို့နယ်ရှိ မြေဧရိယာ ၁၄ ဧကတွင် ခရီးသည်တင် မော်တော်ယာဉ်များနှင့် အပိုပစ္စည်းများ တပ်ဆင် ထုတ်လုပ် ရောင်းချခြင်းနှင့် ပြုပြင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် စက်မှုဝန်ကြီးဌာန မှတဆင့် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် အမှတ်(၁) အကြီးစား စက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာန၊ နှင့် Myanmar Trade Center Co.,Ltd. တို့ချုပ်ထားသည့် ထောက်ကြန့်အလုပ်ရုံခွဲ၏ မြေနှင့်အဆောက်အဦများအားBOTစနစ်ဖြင့်ငှားရမ်းသည့်သဘောတူစာချုပ်၊ မြေဆိုင်ရာအထောက်အထားများ(မိတ္တူ)၊ Myanmar Trade Center Company Limited နှင့် Zyle Daewoo Commercial Vehicle Co.,ltd. တို့ကြား ချုပ်ဆိုထားသည့် ဖက်စပ် သဘောတူစာချုပ် (မူကြမ်း)နှင့် ထုတ်လုပ်မည့် မော်တော်ကားနမူနာဓာတ်ပုံများအား တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး၂၅နှစ် နှင့် သက်တမ်းတိုး ၅နှစ်၂ကြိမ်ဖြစ်ပြီး စုစုပေါင်း ၁၄ ဧက (၅၆၆၅၆.၀၄ စတုရန်းမီတာ)အား ငှားရမ်း ဆောင်ရွက်မည် ဖြစ်ပါသည်။ နှစ်စဉ်မြေနှင့် အဆောက်အဦငှားရမ်းခမှာ ကျပ်၁၀၀သန်းဖြစ်ပြီး လုပ်ငန်းဆောင်ရွက်မှုဘဏ်အာမခံ(PBG) အနေဖြင့်စာချုပ်လက်မှတ်ရေးထိုးသည့်နေ့တွင် ငှားရမ်းမှုတန်ဖိုး၏(၁)လစာ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂နှစ် ကြာမြင့်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ US$ ၄.၆၈၇သန်း ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

| | မြန်မာ (၇၅%) | နိုင်ငံခြား (၂၅%) | ချေးငွေ (ဖက်စပ်) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|---|
| ငွေသား | ၀.၂၂၇ | ၀.၀၃၇ | ၀.၇၆၀ | ၁.၀၂၅ |
| စက်ပစ္စည်းစာရင်း(ပြည်ပ) | ၀.၄၃၂ | ၀.၅၆၃ | ၁.၄၇၄ | ၂.၄၆၉ |
| စက်ပစ္စည်းစာရင်းRecondition(ပြည်ပ) | ၀.၀၂၁ | - | - | ၀.၀၂၁ |
| မော်တော်ယာဉ်စာရင်း(ပြည်ပ) | ၁.၀၅၆ | - | ၀.၀၅၃ | ၁.၁၀၉ |
| ရုံးသုံးပစ္စည်းစာရင်း(ပြည်တွင်း) | ၀.၀၆၄ | - | - | ၀.၀၆၃ |
| **စုစုပေါင်း** | ၁.၈၀၀ | ၀.၆၀၀ | ၂.၂၈၇ | ၄.၆၈၇ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၂၁၅ ဦးအား ခန့်အပ်မည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၀၀,၀၀၀ နှင့် အမြင့်ဆုံး လစာ ကျပ် ၈၀၀,၀၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှထွက်ရှိသော မော်တော်ယာဉ်များကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ပထမနှစ်တွင် ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | ရောင်းချမှု အရေအတွက် (စီးရေ) | ရောင်းဈေးနှုန်း (US$/စီးရေ) |
|---|---|---|
| City Bus (BS 106) | ၅၀ | ၉၈,၀၀၀ |
| Mini Bus (Lestar) | ၅၀ | ၄၇,၀၀၀ |

၈။ အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့မှ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) အစီရင်ခံစာရေးဆွဲ ဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်။

၉။ မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ လုပ်ငန်းလိုအပ်ချက်အရ စက်မှုဝန်ကြီးဌာန၊ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနများသို့ သဘောထား မှတ်ချက်တောင်းခံထားပြီး ယင်းဝန်ကြီးဌာနများမှ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားပြီးဖြစ်ပါသည်။

၁၀။ ငွေကြေးအထောက်အထားအဖြစ် Myanmar Trade Center Company Limited အမည်ဖြင့် မြန်မာနိုင်ငံသားများဘဏ် (MCB Bank) တွင် ၃၀-၆-၂၀၁၈ ရက်စွဲဖြင့် မြန်မာကျပ်ငွေ ၁၆၇,၂၆၃,၃၂၃.၆၉ ရှိကြောင်းတင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၁။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ၂၀၁၈ခုနှစ် ဇူလိုင်လ ၁၆ရက်နေ့တွင် ကျင်းပခဲ့သော အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး(၁၉/၂၀၁၈)သို့ တင်ပြခဲ့ပြီး ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု

ဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၃/၂၀၁၇) အရ အမှတ်(၁)အကြီးစား စက်မှုလုပ်ငန်းပိုင် ထောက်ကြန့်အလုပ်ရုံခွဲအား Myanmar Trade Center Company Limited သို့ Daewoo Bus မော်တော်ယာဉ်များ ထုတ်လုပ်ရန်အတွက် BOTစနစ်ဖြင့် (၂၅+၅+၅) နှစ် ငှားရမ်းခွင့်ပြုထားသည့် အထောက်အထားအား စက်မှုဝန်ကြီးဌာနမှတစ်ဆင့် တင်ပြထားပြီး ၂၉-၅-၂၀၄၂ အထိ စာချုပ်သက်တမ်း ၂၄နှစ် ကျန်ရှိပါသည်။

(ဂ) စက်မှုဝန်ကြီးဌာန၊ အမှတ်(၁) အကြီးစား စက်မှုလုပ်ငန်းပိုင် ထောက်ကြန့် အလုပ်ရုံခွဲ၏ မြေနှင့်အဆောက်အဦများအား BOT စနစ်ဖြင့် ငှားရမ်းထားသည့် သဘောတူစာချုပ်အား ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် အတူ တင်ပြထားပါသည်။

(ဃ) ၂၀၁၈ ခုနှစ် ဇူလိုင်လ ၁၆ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၁၉/၂၀၁၈ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပြီး ထုတ်လုပ်မည့် မော်တော်ယာဉ် အမျိုးအစား(၇)မျိုး၏ ကုန်ကြမ်းပစ္စည်းများအား SKD-2 သတ်မှတ်ချက်ပါ ပစ္စည်း အုပ်စု(၁၀)မျိုးဖြင့် တင်သွင်းထုတ်လုပ်သွားမည်ဖြစ်ပြီး ပထမနှစ်မှ တတိယနှစ်အထိ SKD-2 စနစ်ဖြင့် ဆောင်ရွက်မည် ဖြစ်ပြီး၊ စတုတ္ထနှစ်မှစ၍ CKDစနစ်ဖြင့် စတင်ဆောင်ရွက်သွားနိုင်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

(င) ကိုရီးယား နည်းပညာအတိုင်း ဆောင်ရွက်မည်ဖြစ်ပြီး Zyle Daewoo Commercial Vehicle Co.,ltd. နှင့် Myanmar Trade Center Company Limited တို့ ချုပ်ဆိုထားသည့် Technical Collaboration and License Agreement (မူကြမ်း) အားတင်ပြထားပါသည်။

(စ) Daewoo Bus Myanmar Co., Ltd. သည် မြန်မာနိုင်ငံတွင် ဖွင့်လှစ်ထားသော ကိုရီးယားနိုင်ငံ၏ ဘဏ်ခွဲ Shinhan Bank မှ US$၂.၂၈၇ သန်း ချေးငွေရယူကာ မတည်ငွေရင်းထည့်ဝင်မည်ဖြစ်ပြီး ထားပြီး Loan Agreement (မူကြမ်း)နှင့် Loan Repayment Schedule အား တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၂။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Daewoo Bus Myanmar Co., Ltd. တည်ထောင်ကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ခရီးသည်တင် မော်တော်ယာဉ်များနှင့် အပိုပစ္စည်းများ တပ်ဆင် ထုတ်လုပ် ရောင်းချခြင်းနှင့် ပြုပြင်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ( )
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

၇၆ 15/4/5/18



MDT-1555 5.5.18

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၁၅ - စမ (၂) ၂၀၁၈ ( ၃၁၆ )
ရက် စွဲ၊ ၂၀၁၈ ခုနှစ်၊ မေလ ၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M.404 4/5/18

အကြောင်းအရာ။ **Joint-Venture, Partners ဖြင့် DAEWOO BUS MYANMAR CO.,LTD. တည်ထောင်၍ ခရီးသည်တင် မော်တော်ယာဉ်များနှင့် အစိတ်အပိုင်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းများ ဆောင်ရွက်ရန်အတွက် ထောက်ခံချက်ပေးပို့ခြင်း**

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်းပိုင် မြေကွက်အမှတ်(၉)၊ ကွင်းအမှတ်(၅၂၅/၈)၊ ရဲစုအနောက်တောင်ရပ်ကွက်၊ သောက်ကြန့်၊ မင်္ဂလာဒုံမြို့နယ်ရှိ မြေအား ငှားရမ်း၍ ကိုရီးယားနိုင်ငံ ZYLE DAEWOO BUS CORPORATION နှင့် MYANMAR TRADE CENTER CO.,LTD. တို့မှ အစုရှယ်ယာများ ထည့်ဝင်ကာ မြန်မာနိုင်ငံတွင် JVC စနစ်ဖြင့် DAEWOO BUS MYANMAR CO.,LTD. အမည်ဖြင့် ကုမ္ပဏီတည်ထောင်ပြီး ခရီးသည်တင် မော်တော်ယာဉ်များနှင့် အစိတ်အပိုင်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

၂။ အဆိုပါ ဖက်စပ်ကုမ္ပဏီမှ ငှားရမ်းမြေကွက်တွင် အောက်ပါအတိုင်း ဆောင်ရွက်သွားမည်ဖြစ်ပါသည်-

(က) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်သွားပါမည်။

(ခ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်သွားပါမည်။

(ဂ) Stability ကို ဦးစားပေး၍ ကောင်းမွန်သော Quality Control ဖြင့် ဆောင်ရွက်သွားပါမည်။

(ဃ) လုပ်ငန်းစတင်ချိန်တွင် ဝန်ထမ်းများ ဘေးအန္တရာယ်ကင်းရှင်းစေရန်အတွက် Mask, Safety Shoes, Glove စသည့် Safety Equipment များအား အသုံးပြုသွားပါမည်။

(င) ထုတ်လုပ်မှုအတွက် တင်သွင်းလာမည့် ပစ္စည်းများမှာ အရည်အသွေးကောင်းမွန်ပြီး အသစ်များကိုသာ တင်သွင်းပါမည်။

(စ) ထုတ်လုပ်မှုလုပ်ငန်း၏ Process Chart or Process Flow Diagram ကို ပူးတွဲဖော်ပြအပ်ပါသည်။

(ဆ) Bus ထုတ်လုပ်မည်ဖြစ်၍ အမိုး၊ ဘေးအကာများ ရေလုံ၊မလုံ စမ်းသပ်စစ်ဆေးရန်အတွက် Shower Test Room ထားရှိသွားပါမည်။

(ဇ) Painting Process (Dry Process) ကို အသုံးပြုမည်ဖြစ်ပါသည်။ Air-filtering System ပါရှိသောကြောင့် Waste Water Treatment Plant ဖော်ပြရန်မလိုကြောင်း တွေ့ရှိရပါသည်။

(ဈ) ထုတ်လုပ်မည့်ယာဉ်များမှာ Daewoo Lestar Mini Bus နှင့် Daewoo BS 106 Bus တို့ဖြစ်ပြီး ၎င်းယာဉ်နှစ်မျိုးတွင် တပ်ဆင်သည့် Engine များ၏ Country of Origin မှာ Korea နိုင်ငံဖြစ်ပါသည်။

၃။ သို့ပါ၍ စက်မှုဝန်ကြီးဌာနအနေဖြင့် DAEWOO BUS MYANMAR CO.,LTD. မှ အထက်ဖော်ပြပါလုပ်ငန်းများဆောင်ရွက်မည့်အပေါ် ထောက်ခံပေးပို့အပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်း

DG 3/1.6.18



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

MOPF_1059 31.5.18

စာအမှတ်၊ ၁၅ - စမ (၂) ၂၀၁၈ ( ၆၁၃ )
ရက် စွဲ၊ ၂၀၁၈ ခုနှစ်၊ မေလ ၂၉ ရက်

M 516 1/6/18

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **စက်မှုဝန်ကြီးဌာနပိုင်မြေအား ငှားရမ်းဆောင်ရွက်မှုအဆိုပြုချက် ပေးပို့ခြင်း**

ရည် ညွှန်း ချက်။ (၁) စက်မှုဝန်ကြီးဌာန၏ ၂.၅.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ ၁၅-စမ(၂) ၂၀၁၈ (၃၁၆)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆.၅.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက-၃/ ထွေ/ ၂၀၁၈ (၂၅၀)

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်းပိုင် မြေကွက်အမှတ်(၉)၊ ကွင်းအမှတ်(၅၂၅/က)၊ ရဲစုအနောက်တောင်ရပ်ကွက်၊ ထောက်ကြန့်၊ မင်္ဂလာဒုံမြို့နယ်ရှိ မြေအားငှားရမ်းဆောင်ရွက်လျက်ရှိသည့် Myanmar Trade Center Co.,Ltd. အနေဖြင့် ကိုရီးယားနိုင်ငံ Zyle Daewoo Bus Corporation နှင့် အစုရှယ်ထည့်ဝင်၍ JVC စနစ်ဖြင့် Daewoo Bus Myanmar Co.,Ltd. တည်ထောင်ပြီး ခရီးသည်တင်မော်တော်ယာဉ်များနှင့် အစိတ်အပိုင်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းများ ဆောင်ရွက်မည့်ကိစ္စအပေါ် ရည်ညွှန်းချက်(၁)ပါစာဖြင့် ထောက်ခံချက်ပေးပို့ခဲ့ပါသည်။

၂။ အဆိုပါထောက်ခံချက်ပေးပို့ခဲ့ခြင်းနှင့်စပ်လျဉ်း၍ မြေငှားရမ်းခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူခွင့်ပြုသည့် အကြောင်းကြားစာ(မိတ္တူ)၊ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်(မိတ္တူ)၊ ၎င်းသဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသည့် ငှားရမ်းစာချုပ်(မူကြမ်း)စသည့် ဝန်ကြီးဌာနမှ ဆောင်ရွက်ရန်ကိစ္စများပြီးပြတ်ပါက အဆိုပြုချက်(ပုံစံ-၂)ဖြင့် စက်မှုဝန်ကြီးဌာနမှတစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြရန်ဖြစ်ကြောင်း ရည်ညွှန်းချက်(၂)ပါစာဖြင့် အကြောင်းကြားလာပါသည်။

၈၉ (၂) [signature] 31/5



D:\2018\May-2018.docx101

၃။ အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်းပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ထောက်ကြန့်၊ ရဲစုအနောက်တောရပ်ကွက်၊ မြေကွက်အမှတ်(၉)၊ မြေ(၁၄)ဧကနှင့် အဆောက်အဦ (၂)လုံးအား Myanmar Trade Center Co.,Ltd. သို့ Daewoo Bus မော်တော်ယာဉ်များ ထုတ်လုပ်ရန် BOT စနစ်ဖြင့် (၂၅+၅+၅)နှစ် ငှားရမ်းခွင့်ပြုပါရန်ကိစ္စကို ၂.၂.၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၃/၂၀၁၇)မှ သဘောတူ ခွင့်ပြုခဲ့ပါသည်။

၄။ အဆိုပါခွင့်ပြုချက်အရ ငှားရမ်းစာချုပ် ချုပ်ဆိုနိုင်ရေးအတွက် စာချုပ်(မူကြမ်း) ပြုစု၍ ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ သဘောထားမှတ်ချက်တောင်းခံခဲ့ပြီး သဘောထားမှတ်ချက်ပါအတိုင်း စာချုပ်(မူကြမ်း)အား ပြင်ဆင်ပြုစု၍ ၃၀.၅.၂၀၁၇ ရက်နေ့တွင် သဘောတူစာချုပ်ကို နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုး စာချုပ် ချုပ်ဆိုဆောင်ရွက်ခဲ့ပါသည်။

၅။ သို့ပါ၍ စက်မှုဝန်ကြီးဌာနအနေဖြင့် ထောက်ကြန့်အလုပ်ရုံခွဲတွင် Daewoo Bus မော်တော်ယာဉ်များထုတ်လုပ်ရန် Myanmar Trade Center Co.,Ltd. သို့ ငှားရမ်းရေးအတွက် သဘောတူခွင့်ပြုခဲ့သည့် ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေး၏ ခွင့်ပြုချက်(မိတ္တူ)၊ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်(မိတ္တူ)နှင့် သဘောတူစာချုပ်(မိတ္တူ)တို့ကို ပူးတွဲပေးပို့အပ် ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်း



D:\2018\May-2018.docx101



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်ထောင်စုအစိုးရအဖွဲ့

စာအမှတ်၊ ၂၃ / ၁၆၈ / အဖရ (၃/၂၀၁၇)။
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၆ ရက်။

အ မှာ စာ

အကြောင်းအရာ။ **ထောက်ကြန့်အလုပ်ရုံခွဲအား Myanmar Trade Center Co., Ltd. သို့ ငှားရမ်းခွင့်ပြုပါရန် တင်ပြခြင်း။**

၁။ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၂ ရက် (ကြာသပတေး)နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၃/၂၀၁၇) မှတ်တမ်းကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်းပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

ဇော်သန်းသင်း
အတွင်းရေးမှူး

ပြည်ထောင်စုဝန်ကြီး
စက်မှုဝန်ကြီးဌာန

၂၃။ ထောက်ကြန့်အလုပ်ရုံခွဲအား Myanmar Trade Center Co., Ltd. သို့ ငှားရမ်းခွင့်ပြုပါရန် တင်ပြခြင်း။

စက်မှုဝန်ကြီးဌာန၏ ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ ၁၉ ရက် နေ့စွဲပါ အမှာစာအမှတ်၊ ၁၅-စမ(၂)၂၀၁၆-၂၀၁၇(၂၇၂၀)။

စက်မှုဝန်ကြီးဌာန၊ အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်းရှိ ထောက်ကြန့်အလုပ်ရုံခွဲအား Myanmar Trade Center Co., Ltd. သို့ Daewoo Bus မော်တော်ယာဉ်များထုတ်လုပ်ရန် BOT စနစ်ဖြင့် (၂၅+၅+၅)နှစ် ငှားရမ်းခွင့်ပြုရန် သဘောတူကြသည်။ ဆောင်ရွက်ရန်၊ စက်မှု။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်ထောင်စုရှေ့နေချုပ်ရုံး

စာအမှတ်၊ ၂(၅) ၄ - ၁၂/ နပတ( ၃၃၅ )

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၂၄ ရက်

**စက်မှုဝန်ကြီးဌာန**

;ကြောင်းအရာ။ **အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်းရှိ ထောက်ကြန့်အလုပ်ရုံခွဲအား Myanmar Trade Center Co., Ltd သို့ Daewoo Bus မော်တော်ယာဉ်များ ထုတ်လုပ်ရန် BOT စနစ်ဖြင့်ချုပ်ဆိုသည့် စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

;ညွှန်းချက်။ စက်မှုဝန်ကြီးဌာန၏ ၂၂-၃-၂၀၁၇ ရက်စွဲပါစာအမှတ်၊ ၁၅-စမ (၂) ၂၀၁၆-၂၀၁၇ (၃၃၄၉)

စက်မှုဝန်ကြီးဌာန၊ အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်းရှိ ထောက်ကြန့်အလုပ်ရုံခွဲအား anmar Trade Center Co., Ltd သို့ Daewoo Bus မော်တော်ယာဉ်များထုတ်လုပ်ရန် BOT ဖြင့် (၂၅+၅+၅) နှစ်ငှားရမ်းဆောင်ရွက်နိုင်ရေးနှင့် စပ်လျဉ်း၍ သဘောတူစာချုပ်(မူကြမ်း) ါ် သဘောထားမှတ်ချက်ပေးနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် ပေးပို့လာသောကိစ္စဖြစ်ပါသည်။

ရည်ညွှန်းချက်ပါစာနှင့်အတူ ပေးပို့လာသော စာချုပ်(မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှ သာစိစစ်၍ အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း) အပိုဒ် ၄ တွင် "×××××× အဓိကအဆောက်အဦ(၂)လုံးနှင့် အခြားအထောက်အကူပြု အဆောက်အဦများကို B.O.T စနစ်ဖြင့် နှစ်ရှည်ငှားရမ်း၍ ×××××" ဟုဖော်ပြထားရာ နောင်အငြင်းပွားမှုမဖြစ်စေရေး



' DSSW/ Myanmar Trade Center Co., Ltd (4.4.2017)

အတွက် ငှားရမ်းအဆောက်အဦအရည်အတွက်နှင့် ပါဝင်ပစ္စည်းစာရင်းဇယားများမှန်ကန်စေရေး ဌာနမှ တာဝန်ယူစိစစ်သင့်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) အပိုဒ် ၅ စာချုပ်အကျိုးသက်ရောက်သည့်နေ့ကို "××××× လက်မှတ်ရေးထိုးပြီးနောက် ဘဏ်အာမခံ (Performance Bank Guarantee) ပေးသွင်းပြီးသည့်နေ့မှစ၍ သတ်မှတ်ရမည်" ဟုဖော်ပြထားပြီး အပိုဒ် ၁၀ ဘဏ်အာမခံပေးသွင်းခြင်းတွင် "××××× စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၁) လအတွင်း ×××××× (Performance Bank Guarantee) အားပေးသွင်းရမည်" ဟုဖော်ပြထား၍ စာချုပ်လက်မှတ်ရေးထိုးပြီး (၁)လအကြာမှ စာချုပ်အကျိုးသက်ရောက်မည့်သဘောသက်ရောက်နေပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် ၆ ငှားရမ်းမည့်အချိန်ကာလတွင် "စက်ရုံငှားရမ်းအချိန်ကာလမှာ စာချုပ်အကျိုးသက်ရောက်သည့်နေ့မှစ၍ ပထမသက်တမ်းအနေဖြင့် ငှားရမ်းကာလစသည့်နေ့မှ (၂၅)နှစ်ဖြစ်ပြီး တစ်ကြိမ်လျှင် (၅)နှစ်သက်တမ်းနှစ်ကြိမ်တိုးမြှင့်နိုင်သည်" ဟုဖော်ပြထားရာ စက်ရုံငှားရမ်းကာလအား စာချုပ်အကျိုးသက်ရောက်သည့်နေ့မှစတင်ခြင်းလား၊ ငှားရမ်းကာလစတင်သည့်နေ့မှစတင်ခြင်းလား ရှင်းလင်းမှုမရှိပါသဖြင့် စာချုပ်ချုပ်ဆိုချိန်တွင် ရှင်းလင်းစွာဖော်ပြရန်လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၇ စာချုပ်သက်တမ်းတွင် "စာချုပ်သက်တမ်းအားစာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့မှ စတင်ရေတွက်ရမည်။ ပထမသက်တမ်းမှာ ငှားရမ်းကာလစတင်သည့်နေ့မှ (၂၅)နှစ်ဖြစ်ပြီး ×××××" ဟုဖော်ပြထားရာ စာချုပ်သက်တမ်းအား မည်သည့်နေ့တွင် စတင်မည်ဖြစ်သည်ကို ရှင်းလင်းမှုမရှိပါ။ စာချုပ်သက်တမ်းနှင့် ငှားရမ်းသက်တမ်းမှာ ကိုက်ညီမှုရှိရန်လိုအပ်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် (၉) ငှားရမ်းခနှုန်းထားတွင် အပိုဒ် (ဂ)၌ "××××× မော်တော်ယာဉ်ထုတ်လုပ်နိုင်မှုစွမ်းအားမြှင့်တက်လာပါက ×××××" ဟုဖော်ပြထားရာ ထုတ်လုပ်မှုစွမ်းအားမမြှင့်တက်ပါက မည်သို့ပြုလုပ်မည်ဖြစ်ကြောင်း ဖော်ပြထားခြင်းမရှိပါ။ ငှားရမ်းခအား တိကျရှင်းလင်းစွာဖော်ပြရန် လိုအပ်ပြီး ငှားရမ်းခပေးသွင်းရမည့်နေ့ရက်များကိုလည်း နောင်အငြင်းပွားမှုမဖြစ်စေရေးအတွက် တိကျစွာ ဖော်ပြသင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၉(က)တွင် "စာချုပ်လက်မှတ်ရေးထိုးသည့်ရက်မှစတင်ရေတွက်၍ရက်ပေါင်း(၉ဝ)အထိအား တည်ဆောက်ရေးကာလအဖြစ်သတ်မှတ်၍ ငှားရမ်းခကင်းလွတ်ခွင့်ပြုမည် ××××××" ဟုဖော်ပြထားရာ အပိုဒ် ၄ တွင် "××××× မြေပေါ်ရှိ အဓိကအဆောက်အဦ (၂)လုံးနှင့် အခြားအထောက်အကူပြုအဆောက်အဦ ××××××" ဟုဖော်ပြထား၍ အဆောက်အဦများမှာ တည်ရှိပြီးသားဖြစ်သည်ဟု ယူဆပါသဖြင့် တည်ဆောက်ရေးကာလပေးအပ်ရန်လို မလို ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်။ ထို့ပြင် အဆောက်အဦများရှိပြီးသားဆိုပါက B.O.T စနစ်ဖြင့် လုပ်ကိုင်ရန်မလိုအပ်၍ ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၁၂ တွင် "××××× စာချုပ်ရပ်စဲသည့်အခါတွင်ဗ Bank Guarantee အား "အငှားချထားခြင်းခံရသူ" သို့ ပြန်လည်ထုတ်ပေးမည်ဖြစ်သည်" ဟုဖော်ပြထားရာ နှစ်ဖက်သဘောတူ၍ စာချုပ်ရပ်စဲမှသာ Bank Guarantee အား ပြန်လည်ထုတ်ပေးသင့်ပါသည်။ ဌာန၏လိုအပ်ချက်နှင့် ကိုက်ညီမှုရှိစေရန် ပြန်လည်စိစစ်သင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) အပိုဒ် ၁၅ (ခ) နှင့် ၁၅(ဃ)ပါစည်းကမ်းချက်မှာ အပိုဒ် ၉ ငှားရမ်းခနှုန်းထားပါ စည်းကမ်းချက်များနှင့် တူညီနေပါသဖြင့် စည်းကမ်းချက်များမထပ်စေရေးအတွက် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုဒ် ၁၅(ရ)တွင် "အငှားချထားသည့်အဆောက်အဦ၊ သိုလှောင်ရုံအတွင်း ပျက်စီးစေတတ်သည့် ဓာတုဗေဒပစ္စည်းများ၊ မီးလောင် လွယ်စေတတ်သောပစ္စည်းများအား သိုလှောင်ခြင်းမပြုရ" ဟုဖော်ပြထားရာ ကားထုတ်လုပ်သည့် စက်ရုံဖြစ်၍ ယင်းစည်းကမ်းချက်အား သတ်မှတ်ရန်သင့် မသင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ် ၁၆ (ဈ)ပါဖော်ပြချက်သည် အပိုဒ် ၂၈ ပြန်လည်လွှဲပြောင်း ပေးအပ်ခြင်း စည်းကမ်းချက်နှင့် စည်းကမ်းချက်ချင်းထပ်နေသဖြင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း) အပိုဒ် ၁၇ အငြင်းပွားမှုဖြေရှင်းခြင်း နည်းလမ်းအားပိုမိုပြည့်စုံမှု ရှိစေရန် အခြားစာချုပ်များတွင် အသုံးပြုလေ့ရှိသော စည်းကမ်းချက်အား Slip ကပ်ပေးလိုက်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း) ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ ခေါင်းစဉ်အောက်ရှိ အပိုဒ် ၁၉ တွင် "×××××Performance Guarantee ပေးသွင်းပြီးကြောင်း တင်ပြနိုင်မှသာ လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရန် သတ်မှတ်ပါ သည်" ဟုဖော်ပြထားရာ Performance Guarantee ပေးသွင်းနိုင်ခြင်းမရှိက လုပ်ငန်းစတင်နိုင်မည်မဟုတ်သည်ကို ဌာနမှ သတိပြုသင့်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း) အပိုဒ် ၂၆ စာချုပ်ရပ်စဲခြင်း စည်းကမ်းချက်အား ပိုမိုပြည့်စုံမှုရှိ စေရန် စာချုပ်ဝင်နှစ်ဖက်သဘောတူရပ်စဲခြင်း စည်းကမ်းချက်အား မင်နီဖြင့် ဖြည့်စွက်လိုက်ပါသည်၊

(ဎ) စာချုပ်(မူကြမ်း)ပါ ကွက်လပ်များအား စာချုပ်ချုပ်ဆိုချိန်တွင် ပြည့်စုံစွာဖော်ပြ ပြီးဖြစ်ရန် လိုအပ်ပါသည်၊

(ဏ) လိုအပ်သောနေရာအချို့တွင် မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်။

၃။ တံဆိပ်ခေါင်းခွန်အက်ဥပဒေပုဒ်မ ၉ အရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရရှိသေးလျှင် တံဆိပ်ခေါင်းခွန်အက်ဥပဒေအရ ကျသင့်သော တံဆိပ်ခေါင်းခွန်ကို အငှားချထားခြင်းခံရသူမှ ထမ်းဆောင်ရမည်ဖြစ်ပါသည်။

၄။ ဤ စာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့်မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍သက်ဆိုင်ရာကျွမ်းကျင်သူများနှင့်ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန်အကြံပြုပါသည်။

၅။ Myanmar Trade Center Co., Ltd သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသော ကုမ္ပဏီ ဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကိုလုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင်လက်မှတ်ရေးထိုး မည့်သူသည်တရားဝင်လွှဲအပ်ခြင်းခံရသူ ဟုတ် မဟုတ် စသည်တို့နှင့် စပ်လျဉ်း၍ ကြိုတင်စိစစ်ရန် လိုအပ် မည်ဖြစ်ပါသည်။

၆။ ဤ စာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

25/5/22

ပြည်ထောင်စုရှေ့နေချုပ်(ကိုယ်စား)
(ဒေါက်တာသီတာဦး၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၄၉/၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇူလိုင်လ ၂၆ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M.727
30/7/18

အကြောင်းအရာ။ **Daewoo Bus Myanmar Co., Ltd. မှ ခရီးသည်တင်မော်တော်ယာဉ်များနှင့် အပိုပစ္စည်းများတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ပြုပြင်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၇-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၃/ ခ-၀၂၃/ ၂၀၁၈(၁၂၆)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့်မြန်မာနိုင်ငံရှိ Myanmar Trade Center Company Limited မှ ၇၅%နှင့် ကိုရီးယားနိုင်ငံရှိ Zyle Daewoo Bus Corporationမှ ၂၅% အသီးသီးထည့်ဝင်၍ Daewoo Bus Myanmar Co., Ltd.တည်ထောင်ကာ စက်မှုဝန်ကြီးဌာန၊ အမှတ်- ၁ အကြီးစားစက်မှုလုပ်ငန်း ပိုင်မြေကွက်အမှတ်- ၉၊ မြေတိုင်းရပ်ကွက်အမှတ်- ၅၂၅/၈၊ ရဲစုအနောက်တောရပ်ကွက်၊ ထောက်ကြန့်၊ မင်္ဂလာဒုံမြို့နယ်ရှိ မြေဧရိယာ ၁၄ဧက(၅၆,၆၅၅.၉၈စတုရန်းမီတာ)တွင် ခရီးသည်တင်မော်တော်ယာဉ်များနှင့်အပိုပစ္စည်းများ တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့်ပြုပြင်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံ ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင်ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ(၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၂) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍အမှတ်- ၁၊ အကြီးစားစက်မှုလုပ်ငန်းနှင့် Myanmar Trade Center Co., Ltd. တို့အကြား (၃၀-၅-၂၀၁၇) ရက်နေ့တွင်ချုပ်ဆိုထားသည့် မြေနှင့်အဆောက်အဦများကိုB.O.T စနစ်ဖြင့်ငှားရမ်းသည့်သဘောတူစာချုပ် ဖော်ပြပါရှိပါကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းအားမြေ ၅၆,၆၅၅.၉၈ စတုရန်းမီတာပေါ်ရှိ အဆောက်အဦ (၂) လုံးကိုပြုပြင်မွမ်းမံခြင်းနှင့် လိုအပ်သောအဆောက်အဦများထပ်မံတည်ဆောက်ကာ ဒေဝူးမီနီဘတ်စ်များနှင့်စီးတီးဘတ်စ်များ ထုတ်လုပ်ခြင်း၊ ရောင်းချခြင်း၊ ပြင်ဆင်ခြင်း၊ ပြုပြင်ခြင်း၊ အပိုပစ္စည်းများ၊ အသုံးအဆောင်ပစ္စည်းများနှင့် ဆက်စပ်ပစ္စည်းများကို ရောင်းချခြင်း၊ ပြုပြင်တပ်ဆင်ခြင်းစသည့် ဝန်ဆောင်မှုလုပ်ငန်းများအပြင်၊ နောက်ပိုင်းတွင် လုပ်ငန်းလိုအပ်ချက်အရအထူးယာဉ်များ တိုးချဲ့ထုတ်လုပ်ခြင်းလုပ်ငန်းကိုပါ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် DAEWOO BS 106 City Bus အစီးရေ (၅၀) စီး၊ DAEWOO Lestar Mini Bus အစီးရေ (၅၀)၊ စုစုပေါင်းအစီးရေ (၁၀၀) စီးထုတ်လုပ်

သွားမည်ဖြစ်ပြီး (၁၀) နှစ်အတွင်း DAEWOO BS 106 City Bus အစီးရေ (၃၅၀) စီး၊ DAEWOO Lestar Mini Bus အစီးရေ (၅၅၀)၊ စုစုပေါင်းအစီးရေ (၉၀၀) စီးအထိ တိုးမြှင့် ထုတ်လုပ်ရောင်းချသွားမည် ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏ (၂%) လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Daewoo Bus Myanmar Co., Ltd. မှ ခရီးသည်တင်မော်တော်ယာဉ်များနှင့် အပိုပစ္စည်းများတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ပြုပြင်ခြင်းလုပ်ငန်း အဆောက်အဦများဆောက်လုပ်ရန်အတွက် မြေတူးခြင်း၊ မြေသား ပြုပြင်ဖော်ထုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် မြေသား အမှုန်အမွှားများနှင့် ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊

(ခ) ဂဟေဆော်ခြင်းနှင့် စက်ပစ္စည်းကိရိယာများမှ ထွက်ရှိလာမည့် အခိုး၊ အငွေ့၊ အနံ့အသက်များနှင့် ဆေးမှုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် အနံ့အသက်များကြောင့် လေထုညစ်ညမ်းခြင်း၊ လုပ်ငန်းခွင် လုပ်သားများတွင် မျက်စေ့နှင့်အသက်ရှူလမ်းကြောင်းဆိုင်ရာ ရောဂါများဖြစ်ပွားစေနိုင်ပြီး ပတ်ဝန်းကျင်ရှိပြည်သူလူထုကို အနှောင့် အယှက်ဖြစ်စေနိုင်ခြင်း၊

(ဂ) အလုပ်ရုံမှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများဖြစ်သော စွန့်ပစ်အရည်/အစိုင်အခဲများနှင့် ဝန်ထမ်းများ၏ မိလ္လာစွန့်ပစ်ပစ္စည်းများ၊ အရည်များကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းစေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

(ဃ) ထုတ်လုပ်မှုလုပ်ငန်းအဆင့်ဆင့်နှင့်ပြုပြင်တပ်ဆင်ခြင်းလုပ်ငန်းအဆင့်ဆင့်တွင်စက်ပစ္စည်းများ အသုံးပြုဆောင်ရွက်ရသဖြင့် စက်ယန္တရားများ၏စွန့်ပစ်ပစ္စည်းများဖြစ်သည့် စက်သုံးဆီ၊ ချောဆီများနှင့်ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် အသံညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Daewoo Bus Myanmar Co., Ltd. မှ ခရီးသည်တင်မော်တော်ယာဉ်များနှင့် အပိုပစ္စည်းများတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ပြုပြင်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်းသဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက် စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း

ဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်းရယူဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင် (ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

Dg 6
2/8/18



DPL 2813
1.8.18

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃ - စမ ( ၂ ) ၂၀၁၈ ( ၁၃၀၄ )
ရက် စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဇူလိုင်လ ၃၁ ရက်

သို့

✓မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M.745
3/8/18

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀.၇.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက-၃ / ခ - ၀၂၃ / ၂၀၁၈ ( ၁၂၈ )

၁။ Daewoo Bus Myanmar Co.,Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ထောက်ကြန့်၊ ရဲစုအနောက်တောရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ် ( ၅၂၅/၈ )၊ မြေကွက်အမှတ်( ၉ )ရှိ မြေဧရိယာ( ၁၄ )ဧကတွင် ခရီးသည်တင်မော်တော်ယာဉ်များနှင့် အပိုပစ္စည်းများ တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ပြုပြင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါ ကုမ္ပဏီမှ ဆောင်ရွက်မည့် လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) Daewoo Bus Myanmar Co., Ltd. သည် မြန်မာနိုင်ငံသားပိုင်ကုမ္ပဏီဖြစ်သည့် Myanmar Trade Center Co.,Ltd. ( ၇၅% )နှင့် ကိုးရီယားနိုင်ငံ၊ Zyle Daewoo Bus Corporation (၂၅%)တို့ဖြင့် ဖက်စပ်ပြုလုပ်ထားသော ကုမ္ပဏီဖြစ်ပါသည်။

( ခ ) အဆိုပြု ရင်းနှီးမြှုပ်နှံမှုပမာဏအနေဖြင့် အမေရိကန်ဒေါ်လာ( ၄.၆၈၈ )သန်းတွင် မတည်ရင်းနှီးငွေ အမေရိကန်ဒေါ်လာ ( ၂.၄၀၀ )သန်းနှင့် ဖက်စပ်ကုမ္ပဏီမှ ကိုရီယားနိုင်ငံအခြေစိုက် Shinhan ဘဏ်ခွဲ၊ မြန်မာနိုင်ငံတွင် ဖွင့်လှစ်ထားသည့် Shinhan Bank မှ ချေးငွေအမေရိကန်ဒေါ်လာ ( ၂.၂၈၈ )သန်းတို့ဖြင့် ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(ဂ) ကုမ္ပဏီမှ ပထမ( ၃ )နှစ်တွင် SKD စနစ်ဖြင့် စတင်ထုတ်လုပ်မည်ဖြစ်ပြီး၊ စတုတ္ထနှစ်နှင့် နောက်ပိုင်းတွင် CKD ( 1 )၊ CKD ( 2 ) မှ Full CKD စနစ်တို့ဖြင့် Localization အဆင့်ဆင့် ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(ဃ) ဝန်ထမ်းအင်အား( ၂၁၅ )ဦးအား ခန့်ထား၍ လုပ်ငန်းစတင်မည်ဖြစ်ပြီး Zyle Daewoo Commercial Vehicle Company မှ ကျွမ်းကျင်ပညာရှင်များမှ လာရောက် သင်ကြားပေးမည်ဖြစ်သဖြင့် နည်းပညာလွှဲပြောင်းရရှိရန် လိုအပ်ပါသည်။

(င) BS 106 Model City Bus တွင် အသုံးပြုမည့် Machinery & Equipment (၉၇)မျိုး၊ တန်ဖိုး အမေရိကန်ဒေါ်လာ ( ၁.၉၆၇ )သန်းနှင့် Lestar Mini Bus တွင် အသုံးပြုမည့် Machinery & Equipment( ၂၃ )မျိုး၊ တန်ဖိုး အမေရိကန်ဒေါ်လာ( ၀.၃၁၆ )သန်းနှင့် အခြား( ၃ )မျိုး၊ တန်ဖိုး အမေရိကန်ဒေါ်လာ ( ၀.၀၂၁ )သန်း၊ စုစုပေါင်းတန်ဖိုး အမေရိကန်ဒေါ်လာ ( ၂.၃၀၄ )သန်းအား ပြည်ပမှ တင်သွင်းမည် ဖြစ်ပါသည်။

(စ) Production Plan အနေဖြင့် ပထမနှစ်တွင် BS 106 Model City Bus နှင့် Lestar Model Mini Bus ( ၁၀၀ )စီး၊ ဒုတိယနှစ်တွင် ( ၂၃၀ )စီး၊ တတိယနှစ်တွင် ( ၃၅၀ )စီးနှင့် ထုတ်လုပ်မှုတိုးမြှင့်ပြီး နောင်( ၁၀ )နှစ်တွင် ( ၉၀၀ )စီး ထုတ်လုပ်သွားမည် ဖြစ်ပါသည်။

(ဆ) BS 106 Model သည် City Bus အမျိုးအစားဖြစ်၍ အင်ဂျင်ပါဝါ 11,000 cc ဖြစ်ပြီး အဆိုပြုလွှာပါ ရောင်းဈေးနှုန်း 98,000 USD နှင့် Lestar Model သည် Mini Bus အမျိုးအစားဖြစ်၍ အင်ဂျင်ပါဝါ 2,800 cc ဖြစ်ပြီး အဆိုပြုလွှာပါရောင်းဈေးနှုန်း 47,000 USD ဖြစ်သဖြင့် ပြည်တွင်းဈေးကွက်တွင် ရောင်းချနိုင်ရေးအတွက် ဈေးကွက်ထိုးဖောက်ဝင်ရောက်ရန် လိုအပ်ပါသည်။

(ဇ) ထုတ်လုပ်မည့် BS 106 Model City Bus နှင့် Lestar Model Mini Bus ( ၂ )မျိုးအတွက် Daewoo Bus Myanmar Co., Ltd. ၏ ထုတ်လုပ်ခွင့်ပြုသည့် Authorizational Letter ပူးတွဲ တင်ပြရန် လိုအပ်ပါသည်။

(ဈ) BS 106 Model City Bus အတွက် Technical Specification များ တင်ပြရန် လိုအပ်ပါသည်။

(ည) ကုမ္ပဏီမှ တည်ဆောက်ရေးကာလအား MIC ခွင့်ပြုချက်ရရှိပြီး တင်ပြပါ( ၂ ) နှစ်တွင် တည်ဆောက်ရေး လုပ်ငန်းများပြီးစီးရန် လိုအပ်ပါသည်။

( ဋ ) Assembly Line ၊ Tire Assembly Line ၊ Welding Line ၊ Painting Line ၊ Inspection Line များအလိုက် တင်ပြပါ Machine List တွင်ပါရှိသော စက်ပစ္စည်းအမျိုးအစားများအား နေရာချထားဆောင်ရွက်မည့် Layout Plan ပူးတွဲ တင်ပြရန် လိုအပ်ပါသည်။

( ဌ ) ဘေးကင်းလုံခြုံမှုရှိစေရန်၊ အရည်အသွေးကောင်းမွန်မှန်ကန်မှုရှိစေရန်နှင့် သဘာဝ ပတ်ဝန်းကျင် ကာကွယ်ထိန်းသိမ်းနိုင်ရေး ဦးတည်ဆောင်ရွက်ရန် လိုအပ် ပါသည်။

၃။ သို့ပါ၍ Daewoo Bus Myanmar Co., Ltd. မှ ခရီးသည်တင် မော်တော်ယာဉ်များနှင့် အပိုပစ္စည်းများ တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ပြုပြင်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အထက်ဖော်ပြပါ လိုအပ်ချက်များ ဖြည့်ဆည်းဆောင်ရွက်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ၊ ပုဂ္ဂလိကစက်မှု လုပ်ငန်းဥပဒေ၊ တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ကျော်ကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်း

မျှောစာတွဲ

ရုံးလက်ခံ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ရထ-၂/ရန (MIC)/၂၀၁၈( ၂၂၂၇ )

ရက် စွဲ၊ ၂ ၀ ၁ ၈ ခုနှစ်၊ ဩဂုတ်လ ၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၈ ခုနှစ်၊ ဇူလိုင်လ (၂၀) ရက်စွဲပါစာအမှတ်၊ မရက-၃/ခ-၀၂၃/၂၀၁၈(၁၂၉)

၁။ မြန်မာနိုင်ငံရှိ Myanmar Trade Center Company Limited မှ (၇၅%)နှင့် ကိုရီးယားနိုင်ငံရှိ Zyle Daewoo Bus Corporation မှ (၂၅%)တို့သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Daewoo Bus Myanmar Co.,Ltd တည်ထောင်ကာ စက်မှုဝန်ကြီးဌာန၊ အမှတ် (၁) အကြီးစားစက်မှုလုပ်ငန်းပိုင် မြေကွက်အမှတ်-၉၊ မြေတိုင်းရပ်ကွက်အမှတ်-၅၂၅/၈၊ ရဲစုအနောက်တောရပ်ကွက်၊ ထောက်ကြန့်၊ မင်္ဂလာဒုံမြို့နယ်ရှိ မြေဧရိယာ(၁၄)ဧကတွင် ခရီးသည်တင်မော်တော်ယာဉ်များနှင့် အပိုပစ္စည်းများ တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ပြုပြင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် စက်မှုဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုတင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် သဘောထားတောင်းခံလာပါသည်။

၂။ Daewoo Bus Myanmar Co.,Ltd. သည် မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ခြင်း လုပ်ငန်းဖြင့် ခရီးသည်တင် Daewoo Bs106 (City Bus) နှင့် Daewoo Lester (Mini Bus) နှစ်မျိုးအား SKD စနစ်ဖြင့် တပ်ဆင်ထုတ်လုပ်မည်ဖြစ်ပါသည်။

၃။ တပ်ဆင်ထုတ်လုပ်မည့်ခရီးသည်တင် Daewoo Bs106 ( City Bus ) မော်တော်ယာဉ်၏ Specification အား ဖော်ပြထားခြင်းမရှိပါ။ Daewoo Lester (Mini Bus)၏ Specification တွင် ယာဉ်မောင်းစနစ်၊ Model Year အားဖော်ပြထားခြင်းမရှိပါ၊Dimension နှစ်မျိုးထုတ်လုပ်မည် ဖြစ်ပြီး Asean Motor Vehicle Requirement Standard နှင့်ကိုက်ညီမှုရှိပါသည်။

၄။ SKD စနစ်ဖြင့် မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ခြင်းအတွက် ပြည်တွင်းကုမ္ပဏီများအနေဖြင့် မော်တော်ယာဉ်များထုတ်လုပ်ရာတွင် အောက်ဖော်ပြပါအချက်များအား လိုက်နာဆောင်ရွက်ရမည် ဖြစ်ပါသည်-

(က) Asean Motor Vehicle Requirement Standard.

( ခ ) မြန်မာနိုင်ငံသည် လက်ယာကပ်မောင်းစနစ် ကျင့်သုံးပါသဖြင့် Road Safety ဖြစ်စေရန် ယာဉ်ကြောစနစ်နှင့် လိုက်လျောညီထွေဖြစ်စေမည့် လက်ဝဲဘက်စတီယာ မောင်းစနစ် (Left Hand Drive) ယာဉ်များသာထုတ်လုပ်ရန်။

(ဂ) ထုတ်လုပ်မည့် မော်တော်ယာဉ်၏ အမျိုးအမည်၊ အမျိုးအစားအတွက် ပုံစံအတည်ပြု သတ်မှတ်ရရှိပြီးဖြစ်ရမည်။ ထုတ်လုပ်မည့်မော်တော်ယာဉ်နှင့် ပတ်သက်သည့် Specification များ ပြည့်စုံစွာဖော်ပြရမည်။

(ဃ) အများပြည်သူဆိုင်ရာလမ်းများပေါ်တွင် အန္တရာယ်ကင်းပြီး လုံခြုံစိတ်ချစွာ မောင်းနှင် အသုံးပြုနိုင်ရေးအတွက် မော်တော်ယာဉ်စမ်းသပ်စစ်ဆေးသည့် အလုပ်ရုံ (Vehicle Testing Workshop) တွင်ရှိသော Test Lane ဖြင့် ယာဉ်ကြံ့ခိုင်မှုစစ်ဆေးပြီး အောင်မြင်သည့်ယာဉ်များသာ ဈေးကွက်အတွင်းသို့ဖြန့်ဖြူးရောင်းချရန်။

၅။ စက်မှုဝန်ကြီးဌာနမှ ထုတ်ပေးသည့် Certificate of Approval (CoA) ဖြင့် ကနဦး မှတ်ပုံတင် ဆောင်ရွက်ပေးရန်နှင့် အစီး(၁၀၀)ပြည့်မြောက်ပြီးနောက် ပုံမှန်ဆက်လက်ထုတ်ပေးသည့် မော်တော်ယာဉ်များကို သက်ဆိုင်ရာကုမ္ပဏီ၏ Inspection Certificate (IC) ဖြင့်သာ ဆက်လက် ဆောင်ရွက်ရန်ဖြစ်ပါသည်။

၆။ ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာနအနေဖြင့် SKD စနစ်ဖြင့် ထုတ်လုပ်သည့် မော်တော်ယာဉ်များ ကနဦးမှတ်ပုံတင်လုပ်ငန်း ဆောင်ရွက်ပါက အောက်ပါ အထောက်အထားများ ရယူစိစစ်ပါသည်-

(က) Letter of Authorization Form Origin Co ., Ltd

(ခ) QC would be Signed by Origin Co ., Ltd

(ဂ) Both Our Inspectors (Engineers)

(ဃ) Vehicle Identification (VIN Plate)

၇။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံ၏ မော်တော်ယာဉ်ထုတ်လုပ်မှုကဏ္ဍသည် ပြည်တွင်းတွင် မော်တော်ယာဉ် တစ်စီး ပြည့်စုံစွာထုတ်လုပ်သည့် အဆင့်မဟုတ်ဘဲ ပြည်ပတွင်ထုတ်လုပ်ပြီးဖြစ်သည့် မော်တော်ယာဉ် အစိတ် အပိုင်းများအား မှာယူတင်သွင်း၍ ပြန်လည်တပ်ဆင်သည့် SKD စနစ်သာဖြစ်သေးခြင်း၊ မော်တော်ယာဉ် ထုတ်လုပ်ခြင်းလုပ်ငန်းများအား ပုဂ္ဂလိကကဏ္ဍမှ စတင်ဆောင်ရွက်နေသည်မှာ မကြာမြင့် သေးခြင်းများကြောင့် Self Certification စနစ်ပုံစံမျိုး သက်ဆိုင်ရာကုမ္ပဏီ၏ Inspection Certificate (IC) ဖြင့် မော်တော်ယာဉ်များ ထုတ်လုပ်ခွင့်ပြုခြင်းတွင် ထုတ်လုပ်ပြီးသည့် ယာဉ်အသစ်များအား Safety Standard နှင့် ကိုက်ညီမှု ရှိ/မရှိ စိစစ်ရန်အတွက် ထုတ်လုပ်ခွင့်ပြုသည့် စက်မှုဝန်ကြီးဌာန၏ ထောက်ခံချက်လိုအပ်မည်ဖြစ်ပြီး ဦးဆောင်မှုပြုလုပ်နေသော စက်မှုဝန်ကြီးဌာန၏ အကြံပြုချက်များကို အခြေခံစဉ်းစားလုပ်ဆောင်သင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

(လက်မှတ်)

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
ဝင်းခန့်-အမြဲတမ်းအတွင်းဝန်

မိတ္တူ။

ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန
ရုံးလက်ခံ
မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ - ၀၁-၆၅၈၁၂၈ စာအမှတ်၊မရက- ၃/ ခ-၀၂၃/၂၀၁၈( ၁၄၃ )
🖷 - ၀၁-၆၅၈၁၄၁ ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဩဂုတ်လ ၄ ရက်

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၏ သဘောထားမှတ်ချက် ပေးပို့ခြင်းကိစ္စ**

ရည်ညွှန်းချက် ။ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့၏ ၂၀၁၈ ခုနှစ် ဇူလိုင်လ ၂၆ ရက်စွဲပါစာအမှတ် ၀၀၁/MIC(OSS)/၀၁(၄၉/၁၈)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံရှိ Myanmar Trade Center Company Limited မှ (၇၅%) နှင့် ကိုရီးယားနိုင်ငံရှိ Zyle Daewoo Bus Corporation မှ(၂၅%) တို့သည် Daewoo Bus Myanmar Co., Ltd. တည်ထောင်ကာ စက်မှုဝန်ကြီးဌာန၊ အမှတ်(၁) အကြီးစား စက်မှုလုပ်ငန်းပိုင် မြေကွက်အမှတ်-၉၊ မြေတိုင်းရပ်ကွက်အမှတ်-၅၂၅/၈၊ ရဲစုအနောက်တော ရပ်ကွက်၊ ထောက်ကြန့်၊ မင်္ဂလာဒုံမြို့နယ်ရှိ မြေဧရိယာ ၁၄ ဧကတွင် ခရီးသည်တင်မော်တော်ယာဉ် များနှင့် အပိုပစ္စည်းများတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ပြုပြင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် စက်မှုဝန်ကြီးဌာန မှတဆင့် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာခြင်းအပေါ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့မှ အောက်ပါအတိုင်းဆောင်ရွက်ရန် လိုအပ်မည်ဖြစ် ကြောင်းရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက်ပြန်ကြားလာပါသည်-

(က) ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန် အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility- CSR) အတွက် အသားတင် အမြတ်ငွေ၏ ၂%ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များ ကိုတိတိကျကျလိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၄၉)၊ (၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရ စီမံကိန်း အဆိုပြုသူသည် **ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း လုပ်ငန်း (Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတ နှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်၄၇မှ အပိုဒ်၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း

အစီရင်ခံစာနှင့် ဆောင်ရွက်မည့် လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့်လုပ်ငန်းတစ်ခုချင်းအလိုက်လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီး ဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များ အပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃)ပါ အချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့်အစီအစဉ်စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ် ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ်(Environmental Management Plan-EMP)**ကို ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များ နှင့်အညီ ရေးဆွဲတင်ပြ ရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင် ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု)လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များ နှင့်အညီ လိုက်နာ ဆောင်ရွက်ရန်နှင့် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများ ဖြည့်စွက်၍ တစ်ပါတည်းတင်ပြရန်။

(ဇ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

၂။ သို့ဖြစ်ပါ၍ သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၏ သဘောထားမှတ်ချက်ကို သိရှိလိုက်နာ ဆောင်ရွက်နိုင်ပါရန် နှင့် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment- EIA) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)အစီရင်ခံစာကို သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ပေးပို့ရန်အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

Daewoo Bus Myanmar Co., Ltd.
မိတ္တူကို
ရုံးလက်ခံ/ မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ - ၀၁-၆၅၈၁၂၈
🖷 - ၀၁-၆၅၈၁၄၁

စာအမှတ်၊မရက- ၃/ခ-၀၂၃/၂၀၁၈( ၁၅၈ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဩဂုတ်လ ၇ ရက်

အကြောင်းအရာ။ **စက်မှုဝန်ကြီးဌာန၏သဘောထားမှတ်ချက်ပေးပို့ခြင်းကိစ္စ**

ရည်ညွှန်းချက် ။ စက်မှုဝန်ကြီးဌာန၏၂၀၁၈ ခုနှစ် ဇူလိုင်လ ၃၁ ရက်စွဲပါ စာအမှတ်၊ ၁၃-စမ(၂) ၂၀၁၈ (၁၃၀၄)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံရှိ Myanmar Trade Center Company Limited မှ (၇၅%) နှင့် ကိုရီးယားနိုင်ငံရှိ Zyle Daewoo Bus Corporation မှ(၂၅%) တို့သည် Daewoo Bus Myanmar Co., Ltd. တည်ထောင်ကာ စက်မှုဝန်ကြီးဌာန၊ အမှတ်(၁) အကြီးစား စက်မှုလုပ်ငန်းပိုင် မြေကွက်အမှတ်-၉၊ မြေတိုင်းရပ်ကွက် အမှတ်-၅၂၅/၈၊ ရဲစုအနောက်တော ရပ်ကွက်၊ ထောက်ကြန့်၊ မင်္ဂလာဒုံမြို့နယ်ရှိ မြေဧရိယာ ၁၄ ဧကတွင် ခရီးသည်တင်မော်တော်ယာဉ်များနှင့် အပိုပစ္စည်းများ တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ပြုပြင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် စက်မှုဝန်ကြီးဌာနမှတဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာခြင်းအပေါ် စက်မှုဝန်ကြီးဌာနမှ အောက်ပါအတိုင်း ဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ကြောင်း ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက် ပြန်ကြားလာပါသည်-

(က) ထုတ်လုပ်မည့် BS 106 Model City Bus နှင့် Lestar Model Mini Bus (၂)မျိုး အတွက် မိခင်ကုမ္ပဏီမှ ထုတ်လုပ်ခွင့်ပြုသည့် Authorizational Letter ပူးတွဲတင်ပြရန်လိုအပ်ကြောင်း။

(ခ) BS 106 Model City Bus အတွက် Technical Specification များတင်ပြရန် လိုအပ်ကြောင်း။

(ဂ) Assembly Line၊ Tire Assembly Line၊ Welding Line၊ Painting Line၊ Inspection Line များအလိုက် တင်ပြပါ Machine List တွင် ပါရှိသော စက်ပစ္စည်းအမျိုးအစားများအား နေရာချထားဆောင်ရွက်မည့် Layout Plan ပူးတွဲတင်ပြရန် လိုအပ်ကြောင်း။

(ဃ) ဘေးကင်းလုံခြုံမှုရှိစေရန်၊ အရည်အသွေးကောင်းမွန်မှန်ကန်မှုရှိစေရန်နှင့် သဘာဝပတ်ဝန်းကျင် ကာကွယ်ထိန်းသိမ်းနိုင်ရေး ဦးတည်ဆောင်ရွက်ရန် လိုအပ်ကြောင်း။

၂။ သို့ဖြစ်ပါ၍ စက်မှုဝန်ကြီး၏ သဘောထားမှတ်ချက်အား သိရှိလိုက်နာ ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

Daewoo Bus Myanmar Co., Ltd.

မိတ္တူကို

ရုံးလက်ခံ/ မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ - ၀၁-၆၅၈၁၂၈

🖶 - ၀၁-၆၅၈၁၄၁

စာအမှတ်၊မရက- ၃/ ခ-၀၂၃/၂၀၁၈( ၁၆၂ )

ရက်စွဲ၊၂၀၁၈ ခုနှစ် ဩဂုတ်လ ၁၄ ရက်

အကြောင်းအရာ။ **ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ သဘောထား မှတ်ချက် ပေးပို့ခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၏ ၂၀၁၈ ခုနှစ် ဩဂုတ်လ ၆ ရက်စွဲပါ စာအမှတ်၊ ရထ-၂/ရန(MIC)/၂၀၁၈(၂၂၂၇)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံရှိ Myanmar Trade Center Company Limited မှ (၇၅%) နှင့် ကိုရီးယားနိုင်ငံရှိ Zyle Daewoo Bus Corporation မှ(၂၅%) တို့သည် Daewoo Bus Myanmar Co., Ltd. တည်ထောင်ကာ စက်မှုဝန်ကြီးဌာန၊ အမှတ်(၁)အကြီးစား စက်မှုလုပ်ငန်းပိုင်မြေကွက်အမှတ်-၉၊ မြေတိုင်းရပ်ကွက်အမှတ်-၅၂၅/၈၊ရဲစုအနောက်တောရပ်ကွက်၊ ထောက်ကြန့်၊ မင်္ဂလာဒုံမြို့နယ်ရှိ မြေဧရိယာ ၁၄ ဧကတွင် ခရီးသည်တင်မော်တော်ယာဉ်များနှင့် အပိုပစ္စည်းများ တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ပြုပြင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် စက်မှုဝန်ကြီးဌာနမှတဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာခြင်းအပေါ် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှ အောက်ဖော်ပြပါ သတ်မှတ်ချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် ရည်ညွှန်းပါစာဖြင့် သဘောထား မှတ်ချက်ပြန်ကြားလာပါသည်-

(က) ASEAN Motor Vehicle Requirement Standard နှင့်အညီထုတ်လုပ်ရန်။

(ခ) မြန်မာနိုင်ငံသည်လက်ယာကပ်မောင်းစနစ်ကျင့်သုံးပါသဖြင့်Road Safety ဖြစ်စေရန် အတွက် ယာဉ်ကြောစနစ်နှင့် လိုက်လျောညီထွေ ဖြစ်စေမည့် လက်ဝဲဘက်စတီယာ ယာဉ်မောင်းစနစ် (Left Hand Drive)ယာဉ်များသာ ထုတ်လုပ်ရန်။

(ဂ) ထုတ်လုပ်မည့်မော်တော်ယာဉ်၏ အမျိုးအမည်၊ အမျိုးအစားအတွက် ပုံစံအတည်ပြု သတ်မှတ်ချက် ရရှိပြီးဖြစ်ရန်နှင့် ထုတ်လုပ်မည့် မော်တော်ယာဉ်နှင့် ပတ်သက်သည့် Specification များပြည့်စုံစွာဖော်ပြရန်။

(ဃ) အများပြည်သူဆိုင်ရာလမ်းများပေါ်တွင် အန္တရာယ်ကင်းပြီး လုံခြုံစိတ်ချစွာ မောင်းနှင် အသုံးပြုနိုင်ရေးအတွက် မော်တော်ယာဉ် စမ်းသပ် စစ်ဆေးသည့် အလုပ်ရုံ(Vehicle Testing Workshop)တွင် ရှိသော Test Lane ဖြင့် ယာဉ်ကြံ့ခိုင်မှု စစ်ဆေးပြီး အောင်မြင်သည့်ယာဉ်များသာ ဈေးကွက်အတွင်းသို့ ဖြန့်ဖြူးရောင်းချရန်။

(င) စက်မှုဝန်ကြီးဌာနမှ ထုတ်ပေးသည့် Certificate of Approval (CoA) ဖြင့် ကနဦး မှတ်ပုံတင်ဆောင်ရွက်ပေးရန်နှင့် အစီး(၁၀၀)ပြည့်မြောက်ပြီးနောက် ပုံမှန်ဆက်လက် ထုတ်ပေးသည့် မော်တော်ယာဉ်များကို သက်ဆိုင်ရာ ကုမ္ပဏီ၏ Inspection Certificate (IC)ဖြင့်သာဆက်လက်ဆောင်ရွက်ရန်။

၂။ သို့ဖြစ်ပါ၍ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား သိရှိ လိုက်နာဆောင်ရွက်နိုင်ပါရန်အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

Daewoo Bus Myanmar Co., Ltd.
မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ